အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Min Chan Thar Pin Myint San Company Limited မှ ဆိတ်မွေးမြူရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Min Chan Thar Pin Myint San Company Limited |
| | ကမကထပြုသူ | ဦးဝင်းဗိုလ် |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ဆိတ်မွေးမြူရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ပခုက္ကူခရိုင်၊ ပခုက္ကူမြို့နယ်၊ အမှတ်(၁၁) ရပ်ကွက်၊ ကွင်းအမှတ် ၃၄၄၊ မကျီးသမ္ဘားတောင်၊ ဦးပိုင်အမှတ်-F/၇၁၊ ၇၂၊ ၇၃၊ ၁၁၈၊ ၁၁၉၊ ၁၂၀၊ ၁၂၁၊ ၁၂၂ ရှိမြေ(၀.၄၄)ဧက |
| ၃။ | မြေပိုင်ရှင် | - ဦးဝင်းဗိုလ် |
| | မြေအကျယ်အဝန်း | - စုစုပေါင်း မြေ(၀.၄၄)ဧက (၁၇၈၀.၆၂ စတုရန်း မီတာ) |
| | နှစ်စဉ်မြေငှားရမ်းခ | - ကျပ် ၁,၂၀၀,၀၀၀ |
| | မြေငှားရမ်းကာလ | - ၂၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၆ လ |
| ၄။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - ကျပ် ၅၀.၀၀ သန်း |
| | | **ကျပ်/သန်း** |
| | ငွေပမာဏ | ၂၀.၀၀ |
| | မြေငှားရမ်းခ | ၂၄.၀၀ |
| | အဆောက်အဦကုန်ကျစရိတ် | ၆.၀၀ |
| | **စုစုပေါင်း** | **၅၀.၀၀၀** |
| ၅။ | ဝန်ထမ်းအင်အား ပြည်တွင်း | ၃၀ ဦး (ဝန်ထမ်း ၁ ဦး ၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃၅၀,၀၀၀ ဖြစ်ပါသည်။ |
| ၆။ | ရောင်းချမည့်စနစ် | ပြည်ပ ၁၀၀ရာခိုင်နှုန်း |
| ၇။ | နှစ်စဉ်ထုတ်လုပ်မှု | |

| စဉ် | အမျိုးအစား | အရေအတွက် (ကောင်) | | ရောင်းဈေးနှုန်း (US$/ကောင်) |
|---|---|---|---|---|
| | | အထီး | အမ | |
| (က) | ဆိတ် | ၁၀၀၀ | ၁၂၀၀ | ၉၄ |

| | | |
|---|---|---|
| ၈။ | စိစစ်တင်ပြချက် | - Min Chan Thar Pin Myint San Company Limited ၏ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်မိတ္တူ၊ MOA, AOA တို့ အား တင်ပြ ထား ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့် တင်မည့် ရင်းနှီး မြှုပ်နှံမှုကဏ္ဍပါ ISIC Code. 01441နှင့် ကန့်သတ်သည့် ရင်းနှီး မြှုပ်နှံမှု လုပ်ငန်းအမျိုးအစားပါ ISIC Code. 0144 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်-၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှု ကဏ္ဍစာရင်းတွင် ပါဝင်ပါသည်။<br>- အဆိုပြု လုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးတိုးတက်မှု ဇုန်အမျိုးအစား သတ်မှတ်ရာ ဇုန်(၂)တွင် ပါဝင်ပါသည်။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁၀ ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်-၁၅/၂၀၁၇ အရ သက်ဆိုင်ရာဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်ရမည့်လုပ်ငန်းစာရင်းတွင်ပါဝင်ပါသည်။<br>- မြေအထောက်အထားအဖြစ် ဦးဝင်းမိုလ်အမည်ဖြင့် မြေစာရင်းပုံစံ ၁၀၅၊ ၁၀၆ တို့ကို တင်ပြထားပါသည်။<br>- မကွေးတိုင်းဒေသကြီး အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန မှ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။<br>- အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။<br>- အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ မကွေးတိုင်းဒေသကြီး ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါး |

| | | |
|---|---|---|
| | | စေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံ ခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ သီးခြားစီ အစီရင်ခံ ရေးသား၍ တင်ပြရမည်ဖြစ်ကြောင်း သဘောထား ပြန်ကြား ထားပါသည်။<br>- |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ အ-၀၂၄ /၂၀၁၈( ၀၃ )
ရက်စွဲ ၊၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၉ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Min Chan Thar Pin Myint San Company Limited မှ ဆိတ်မွေးမြူရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့် ပြုပါရန်တင်ပြ လာခြင်းကိစ္စ**

၁။ Min Chan Thar Pin Myint San Company Limited မှ ပခုက္ကူခရိုင်၊ ပခုက္ကူမြို့နယ်၊ အမှတ်(၁၁) ရပ်ကွက်၊ ကွင်းအမှတ် ၃၄၄၊ မကျီးသမ္ဘားတောင်၊ ဦးပိုင်အမှတ်-F/၇၁၊ ၇၂၊ ၇၃၊ ၁၁၈၊ ၁၁၉၊ ၁၂၀၊ ၁၂၁၊ ၁၂၂ ရှိမြေ(၀.၄၄)ဧက တွင် ဆိတ်မွေးမြူရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ မှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာကိုထား လွှာတင်ပြလာပါ သည်။

၂။ မြေပိုင်ရှင်ဦးဝင်းမိုလ်နှင့် Min Chan Thar Pin Myint San Company Limited တို့ ချုပ်ဆိုထား သော Land Lease Agreement အား တင်ပြထားပါသည်။ မြေငှားသက်တမ်းမှာ ကနဦး ၂၀ နှစ်ဖြစ်ပါသည်။ မြေအကျယ်အဝန်းမှာ မြေ(၀.၄၄)ဧက (၁၇၈၀.၆၂ စတုရန်း မီတာ)ဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခမှာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပါသည်။

၃။ အဆိုပြုချက်နှင့်အတူ မြေအထောက်အထားအဖြစ် ဦးဝင်းမိုလ်အမည်ဖြင့် မြေစာရင်း ပုံစံ ၁၀၅၊ ၁၀၆ ၊ ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ နိုင်ငံသားမှတ်ပုံတင်မိတ္တူတို့ကို တင်ပြထားပါသည်။

၄။ ကုမ္ပဏီ၏ တည်ဆောက်ရေးကာလ မှာ ၆လ ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၅၀ သန်း ဖြစ်ပြီး မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ကျပ်/သန်း |
|---|---|
| ငွေပမာဏ | ၂၀.၀၀ |
| မြေငှားရမ်းခ | ၂၄.၀၀ |
| အဆောက်အဦကုန်ကျစရိတ် | ၆.၀၀ |
| **စုစုပေါင်း** | ၅၀.၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၃၀ ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်း ၁ ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃၅၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့်ရောင်းချမှု ဈေးနှုန်းမှာအောက်ပါအတိုင်းဖြစ် ပါ သည်-

| စဉ် | အမျိုးအစား | အရေအတွက် (အကောင်) | | ရောင်းဈေးနှုန်း ( US$/ အကောင်) |
|---|---|---|---|---|
| | | အထီး | အမ | |
| (က) | ဆိတ် | ၁၀၀၀ | ၁၂၀၀ | ၉၄ |

၈။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **မကွေးတိုင်းဒေသကြီး ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန**မှ အဆိုပြုလုပ်ငန်း နှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ် အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ သီးခြားစီအစီရင်ခံရေးသား၍ တင်ပြရမည်ဖြစ်ကြောင်း သဘောထား ပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **မကွေးတိုင်းဒေသကြီး အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန** မှ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၉။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃၅/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၁၀။ စိစစ်တင်ပြချက်

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင်ပါဝင်ပြီး ဖွံ့ဖြိုးမှုရှိသောဇုန်အမျိုးအစား သတ်မှတ်ရာ ဇုန်(၂)တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေး ရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့်ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ Min Chan Thar Pin Myint San Company Limited မှ ပခုက္ကူခရိုင်၊ ပခုက္ကူမြို့နယ်၊ အမှတ်(၁၁) ရပ်ကွက်၊ ကွင်းအမှတ် ၃၄၄၊ မကျီးသမျှားတောင်၊ ဦးပိုင်အမှတ်-F/၇၁၊ ၇၂၊ ၇၃၊ ၁၁၈၊ ၁၁၉၊ ၁၂၀၊ ၁၂၁၊ ၁၂၂ ရှိမြေ(၀.၄၄)ဧက တွင် ဆိတ်မွေးမြူရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

ပတ် ဝန်း ကျင် ထိန်း သိမ်း ရေး ဦး စီး ဌာ န

ညွှန် ကြား ရေး မှူး ရုံး

မ ကွေး တိုင်း ဒေ သ ကြီး - မ ကွေး မြို့

စာ အ မှတ် ၊ ၂ / ၅ ( ၅၁၄ /၂၀၁၇)

ရက် စွဲ ၊ ၂၀၁၇ ခု နှစ် ၊ နိုဝင်ဘာလ ၂၄ ရက်

1764/1414
27.11.2017

သို့

ဝန်ကြီးချုပ်

တိုင်းဒေသကြီးအစိုးရအဖွဲ့

မကွေးတိုင်းဒေသကြီး၊ မကွေးမြို့

အကြောင်းအရာ။ **Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်) မှ ဆိတ်မွေးမြူရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၂-၁၁-၂၀၁၇ ရက်စွဲပါစာအမှတ်၊ ၄/၇-၆ (စဘစ/၆၆၅)/ဦး ၆

၁။ မြန်မာနိုင်ငံသား မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်မှ မကွေးတိုင်းဒေသကြီး၊ ပခုက္ကူခရိုင်၊ ပခုက္ကူမြို့နယ်၊ အမှတ် (၁၁) ရပ်ကွက်၊ ကွင်းအမှတ်၊ ၃၄၄၊ မကျီးသမျှားတောင်၊ ဦးပိုင်အမှတ် F/၇၁၊ ၇၂၊ ၇၃၊ ၁၁၈၊ ၁၁၉၊ ၁၂၀၊ ၁၂၁၊ ၁၂၂ ရှိ မြေဧရိယာ (၀.၄၄) ဧကတွင် ဆိတ်များမွေးမြူရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်းပြီး လက်ခံနိုင်ခြင်း ရှိ/မရှိ စိစစ်၍ သဘောထားမှတ်ချက်နှင့် အကြံပြုတင်ပြချက် ပြန်လည်တင်ပြရန် ရည်ညွှန်းစာဖြင့်အကြောင်းကြားလာပါသည်။

၂။ အဆိုပါ စုံစမ်းမေးမြန်းလာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည်-

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ မကွေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီမှ ခွင့်ပြုချက်ပေးမည့် ကာလအတိုင်းဖြစ်ပါကြောင်း။

(ခ) အဆိုပြုလုပ်ငန်းအား မကွေးတိုင်းဒေသကြီး၊ ပခုက္ကူ ခရိုင်၊ ပခုက္ကူမြို့နယ်၊ အမှတ် (၁၁) ရပ်ကွက်၊ ကွင်းအမှတ်၊ ၃၄၄၊ မကျီးသမျှားတောင်၊ ဦးပိုင်အမှတ် F/၇၁၊ ၇၂၊ ၇၃၊ ၁၁၈၊ ၁၁၉၊ ၁၂၀၊ ၁၂၁၊ ၁၂၂ တွင် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း။

(ဂ) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊အရေးပေါ်ဘေးအန္တရာယ်စီမံခန့်ခွဲရေးအစီအစဉ်၊ အရေးပေါ်ကယ်ဆယ်ရေးအစီအစဉ်၊ လုံခြုံရေးအစီအစဉ်နှင့် ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်များကို ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း။

(ဃ) လုပ်ငန်းမှနှစ်စဉ်ရရှိလာမည့် အမြတ်ငွေမှ သတ်မှတ်ရာခိုင်နှုန်းဖြင့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ပါကြောင်း။

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပြီး လိုအပ်သော ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ်များကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြု မေးမြန်းစုံစမ်းလာသောလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်မှ ဆိတ်မွေးမြူရောင်းချခြင်းလုပ်ငန်းသည် တိရစ္ဆာန်များမှထွက်ရှိသည့် အနံ့အသက်များ၊ ခြံအတွင်းမှ မစင်နံ့များနှင့် မကြာခဏ နိုင်ပြေးလွှားသည့်အတွက် ဖုန်မှုန့်များထွက်ရှိနိုင်ပြီး ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထု၊ လေထုကို အနည်းငယ်ညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ပါကြောင်း။

(ခ) မွေးမြူရေးလုပ်ငန်းဖြစ်သည့်အတွက် ပတ်ဝန်းကျင်သို့ ထွက်ရှိလာမည့် အမှုန်အမွှားနှင့် တိရစ္ဆာန်များ၏ ဆူညံသံများကြောင့် လေထုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ပြီး ပတ်ဝန်းကျင်ရှိ ပြည်သူများအား ကျန်းမာရေးထိခိုက်စေနိုင်ပါကြောင်း။

(ဂ) မွေးမြူရေးလုပ်ငန်းရှိ ခြံများမှ တိရစ္ဆာန်အစားအစာများ၊ မစင်များ၊ စွန့်ပစ်ရေများ အမှုန်အမွှားများနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါကြောင်း။

၄။ သို့ဖြစ်ပါ၍ မင်းချမ်းသာပင်မြင့်စံ ကုမ္ပဏီလီမိတက်မှ ဆိတ်မွေးမြူရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ရန် စုံစမ်းမေးမြန်းလာခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများအတွက် သဘောထားမှတ်ချက်အား အောက်ပါအတိုင်း အကြံပြုတင်ပြ အပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြမည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility- CSR) အတွက် အသားတင်အမြတ်ငွေ၏ သတ်မှတ်ရာခိုင်နှုန်းအား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက် ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်သည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ် ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ သီးခြားစီ အစီရင်ခံ ရေးသား၍ ဤရုံးသို့ (၁) လအတွင်း ပြန်လည်တင်ပြအတည်ပြုချက်ရယူရန်။

(ဂ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု)

လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ကိုဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်။

(ဃ) မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

တာဝန်ခံအရာရှိ

(ဝင်းကိုကို)

လက်ထောက်ညွှန်ကြားရေးမှူး

မိတ္တူ

တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ၊ မြို့နယ်စုပေါင်းရုံး၊ ပြည်တော်သာ(၁)လမ်း၊မကွေးမြို့ (ကုမ္ပဏီနှင့်ပတ်သက်သော လိုအပ်သည့်စာရွက်စာတမ်းမိတ္တူများပေးပို့ပါရန်)

ကာကွယ်ရေးဖိုင်

ရုံးလက်ခံ

Wcc

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၉၀၂ /၂၀၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ ၂၇ ရက်

1764/430
1.12.2017

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မကွေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၁၇-၁၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မက - ရက / ရင်းနှီး/ ၂၀၁၇(၀၄၂)

(၂) မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ ၂၄-၁၁-၂၀၁၇ ရက်စွဲပါစာအမှတ်၊ ညကခ/ သထ/ MIC/ ၂၀၁၇ (၆၁၇)

၁။ Min Chan Thar Pin Myint San Company Limited မှ မကွေးတိုင်းဒေသကြီး၊ ပခုက္ကူခရိုင်၊ ပခုက္ကူမြို့နယ်၊ အမှတ် (၁၁)ရပ်ကွက်၊ ကွင်းအမှတ် (၃၄၄) မကျီးသမ္ဘားတောင်၊ ဦးပိုင်အမှတ် (F/၇၁၊ ၇၂၊ ၇၃၊ ၁၁၈၊ ၁၁၉၊ ၁၂၀၊ ၁၂၁၊ ၁၂၂) ရှိ မြေ (၀.၄၄)ဧက တွင် ဆိတ်မွေးမြူရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုမိန့်ဖြင့် ဆောင်ရွက်ခွင့်ပြုရန် တင်ပြလာမှုနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်း(၁)ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ Min Chan Thar Pin Myint San Company Limited သည် လက်ရှိတွင် ဆိတ်များ အမှန်တစ်ကယ် မွေးမြူထားလျက်ရှိပြီး မြို့နယ်မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ တိရစ္ဆာန်ကျန်းမာရေး စောင့်ရှောက်မှုကိုခံယူခြင်း၊ လုပ်ထုံးလုပ်နည်းနှင့်အညီ မွေးမြူရေးခြံ မှတ်ပုံတင်ထားသော ကုမ္ပဏီဖြစ်ခြင်း၊ ဆိတ်မွေးမြူခြင်းကို စီးပွားဖြစ်ဆောင်ရွက်ခြင်းဖြင့် ဒေသတွင်းလူမှုစီးပွားဖွံ့ဖြိုးတိုးတက်စေခြင်းနှင့် ကျေးလက်ဒေသပြည်သူများ အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေနိုင်ပါကြောင်း မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့် တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် Min Chan Thar Pin Myint San Company Limited မှ မကွေးတိုင်းဒေသကြီး၊ ပခုက္ကူခရိုင်၊ ပခုက္ကူမြို့နယ်ရှိ မြေ(၀.၄၄)ဧကတွင် ဆိတ်မွေးမြူရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မှုအပေါ် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

27.11.17

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
လှထွန်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်

**မကွေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
(၂) ရုံးလက်ခံ
(၃) မျှော

ST

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
**မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန**

စာအမှတ်၊ ညကခ/သထ/MIC /၂၀၁၇ (၆၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၂၄ ရက်

သို့

**ပြည်ထောင်စုဝန်ကြီး**
**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားပေးပို့ခြင်း**

ရည်ညွှန်းချက်။ ပြည်ထောင်စုဝန်ကြီးရုံး၏ (၂၂-၁၁-၂၀၁၇) ရက်စွဲပါ စာအမှတ်၊ ၃/၂၀၀၀/ မွေးရေကျေး (၈၉၆/၂၀၁၇)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Min Chan Thar Pin Myint San Co., Ltd. (မင်းချမ်းသာပင်မြင့်စံကုမ္ပဏီလီမိတက်) မှ မကွေးတိုင်းဒေသကြီး၊ ပခုက္ကူခရိုင်၊ ပခုက္ကူမြို့နယ်၊ အမှတ် (၁၁) ရပ်ကွက် ၊ ကွင်းအမှတ် (၃၄၄)၊ မကျီးသမ္ဗျားတောင် ၊ ဦးပိုင်အမှတ် (F/၇၁၊ ၇၂၊ ၇၃၊ ၁၁၈၊ ၁၁၉၊ ၁၂၀၊ ၁၂၁၊ ၁၂၂) ရှိ မြေ (၀.၄၄)ဧကတွင် ဆိတ်မွေးမြူရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Min Chan Thar Pin Myint San Co., Ltd. (မင်းချမ်းသာပင်မြင့်စံကုမ္ပဏီလီမိတက်) သည်လက်ရှိတွင် ဆိတ်များအမှန်တကယ်မွေးမြူထားလျက်ရှိပြီး မြို့နယ်မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ တိရစ္ဆာန်ကျန်းမာရေးစောင့်ရှောက်မှုကို ခံယူခြင်း၊ လုပ်ထုံးလုပ်နည်းနှင့်အညီ မွေးမြူရေးခြံမှတ်ပုံတင်ထားသော ကုမ္ပဏီဖြစ်ခြင်း၊ ဆိတ်မွေးမြူခြင်းကို စီးပွားဖြစ်ဆောင်ရွက်ခြင်းဖြင့် ဒေသတွင်း လူမှုစီးပွားဖွံ့ဖြိုးတိုးတက်စေခြင်းနှင့် ကျေးလက်ဒေသပြည်သူများ အလုပ်အကိုင်အခွင့်အလမ်းများ ရရှိလာနိုင်စေခြင်းတို့ကြောင့် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ဒေါက်တာရဲထွန်းဝင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်ရုံး၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
မျှောစာတွဲ/ လက်ခံစာတွဲ

နောက်ဆက်တွဲ - ဂ



တိုင်း ဒေ သ ကြီး အုပ် ချုပ် ရေး မှူး ရုံး
(အ ထွေ ထွေ အုပ် ချုပ် ရေး ဦး စီး ဌာန)
မကွေးတိုင်းဒေသကြီး - မကွေးမြို့
စာအမှတ်၊ ၃ / ၂၂ - ၄၀ (၁၈၀၂)/ ဦး ဖ
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ ၂၇ ရက်

သို့
ဝန်ကြီးချုပ်
မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မကွေးမြို့

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၂၂.၁၁.၂၀၁၇)ရက်စွဲပါစာအမှတ်၊ ၄ / ၇ - ဖ (စဘစ/ ဖဖ၅) / ဦး ဖ

Min Chan Thar Pin Myint San Company Limited (မင်းချမ်းသာပင်မြင့်စံကုမ္ပဏီလီမိတက်) မှ ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ပခုက္ကူမြို့နယ်၊ အမှတ်(၁၁) ရပ်ကွက်၊ ကွင်းအမှတ် (၃၄၄)၊ မကျီးသမျှားတောင်၊ ဦးပိုင်အမှတ် (F / ၇၀ ၊ ၇၂၊ ၇၃၊ ၁၁၈၊ ၁၁၉၊ ၁၂၀ ၊ ၁၂၁၊ ၁၂၂)ရှိ မြေဧရိယာ(၀.၄၄)ဧကတွင် ဆိတ်မွေးမြူ ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အဆိုပြု တင်ပြ လျှောက်ထားမြေသည် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ လုပ်ငန်းမှတ်ပုံတင်အမှတ်၊ ၀၀၉ / ဆိတ်ခြံ / ၂၀၁၇အရ (၃၁.၃.၂၀၁၈)ရက်နေ့အထိ လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိထားကြောင်း စိစစ်တွေ့ရှိရပါသဖြင့် တိုင်းဒေသကြီးအထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း တင်ပြအပ်ပါသည်။

၂၇.၁၁.၂၀၁၇

ဝေဇင်ထွန်း
တိုင်းဒေသကြီးအုပ်ချုပ်ရေးမှူး

မိတ္တူကို
မကွေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ၊ မြို့နယ်စုပေါင်းရုံး၊
ပြည်တော်သာ(၁)လမ်း၊ ပြည်တော်သာရပ်ကွက်၊ မကွေးမြို့။
ယှဉ်လည်စာတွဲ
ရုံးလက်ခံ